အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပုဂ္ဂလိကအထက်တန်းကျောင်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br><br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd.<br>- ဒေါက်တာလှိုင်ချစ်ဇော်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပုဂ္ဂလိကအထက်တန်းကျောင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၂၉/၈၊၂၉/၅၊ ၁၆၅၊ ၈၃၊ ၈၄၊ မြေတိုင်းရပ်ကွက် အမှတ်-၅၃၈ (က)၊ ၃၁၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br><br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါက်တာလှိုင်ချစ်ဇော်၊ ဦးမောင်အေး<br>- ၁.၂၂၈ ဧက (စတုရန်းမီတာ ၄,၉၆၉.၅၄)<br><br>- -<br><br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br><br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ<br>အဆောက်အအုံ<br>လုပ်ငန်းသုံးပစ္စည်း<br>သင်ထောက်ကူပစ္စည်း<br>**စုစုပေါင်း** | - ကျပ် ၆,၁၀၀.၀၀ သန်း<br>**စုစုပေါင်း**<br>**ကျပ်(သန်း)**<br>၂၀၀.၀၀<br>၂,၀၅၀.၀၀<br>၃,၂၅၀.၀၀<br>၃၅၀.၀၀<br>၂၅၀.၀၀<br>**၆,၁၀၀.၀၀** |



Salient

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | <table><tr><th>စဉ်</th><th>အမျိုးအမည်</th><th>ဦးရေ</th><th>ဝန်ဆောင်ခနှုန်း (ကျပ်)</th></tr><tr><td>(က)</td><td>သူငယ်တန်း(KG)</td><td>၂၀၄</td><td>၄၀,၀၀၀</td></tr><tr><td>(ခ)</td><td>ပထမတန်း</td><td>၂၄၆</td><td>၄၀,၀၀၀</td></tr><tr><td>(ဂ)</td><td>ဒုတိယတန်း</td><td>၂၂၂</td><td>၄၀,၀၀၀</td></tr><tr><td>(ဃ)</td><td>တတိယတန်း</td><td>၁၆၃</td><td>၄၅,၀၀၀</td></tr><tr><td>(င)</td><td>စတုတ္ထတန်း</td><td>၁၇၆</td><td>၄၅,၀၀၀</td></tr><tr><td>(စ)</td><td>ပဉ္စမတန်း</td><td>၁၈၂</td><td>၅၀,၀၀၀</td></tr><tr><td>(ဆ)</td><td>ဆဋ္ဌမတန်း</td><td>၁၄၂</td><td>၅၀,၀၀၀</td></tr><tr><td>(ဇ)</td><td>သတ္တမတန်း</td><td>၁၄၄</td><td>၅၀,၀၀၀</td></tr><tr><td>(ဈ)</td><td>အဋ္ဌမတန်း</td><td>၁၄၇</td><td>၅၅,၀၀၀</td></tr><tr><td>(ည)</td><td>နဝမတန်း</td><td>၁၈၀</td><td>၇၀,၀၀၀</td></tr><tr><td>(ဋ)</td><td>ဒသမတန်း</td><td>၁၇၄</td><td>၁၄၀,၀၀၀</td></tr></table> |
| ၈။ | ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး<br><br><br><br>စီမံခန့်ခွဲရေး | <table><tr><th></th><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr><tr><td>**ဦးရေ**</td><td></td><td>၈၈ ဦး</td><td>-</td></tr><tr><td>**အမြင့်ဆုံးလစာ**</td><td>ကျပ်</td><td>၃၂၀,၀၀၀</td><td></td></tr><tr><td>**အနိမ့်ဆုံးလစာ**</td><td>ကျပ်</td><td>၁၅၀,၀၀၀</td><td></td></tr></table><table><tr><th></th><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr><tr><td>**ဦးရေ**</td><td></td><td>၂၀ ဦး</td><td>-</td></tr><tr><td>**အမြင့်ဆုံးလစာ**</td><td>ကျပ်</td><td>၃၀၀,၀၀၀</td><td></td></tr><tr><td>**အနိမ့်ဆုံးလစာ**</td><td>ကျပ်</td><td>၁၅၀,၀၀၀</td><td></td></tr></table> |
| ၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် Yoma Bank (Kyauktada) ဘဏ်ခွဲတွင် Daw Kay Thi Hlaing အမည်ဖြင့် ၆-၉-၂၀၁၈ ရက်စွဲတွင် ကျပ် ၃၇,၂၂၃,၄၃၈.၃၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက် | - Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd.၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ပညာရေးဝန်ကြီးဌာနမှထုတ်ပေးထားသည့် ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ်နှင့် သင်ကြားမည့်ဆရာ၊ ဆရာမများ၏ ကိုယ်ပိုင်ကျောင်းဆရာလက်မှတ်နှင့် လုပ်ငန်းဆောင်ရွက်မည့်နေရာအတွက် Layout Plan တို့အား တင်ပြထားပါသည်။<br>- ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်၊ မီးသတ်ဦးစီးဌာနမှ ထုတ်ပေးထားသော မီးဘေး လုံခြုံရေးစစ်ဆေးထောက်ခံချက်၊ အရက်သေစာ မူးယစ် |

| | | |
|---|---|---|
| | | ဆေးဝါးသုံးစွဲမှုမရှိစေရေး ကတိပြုဝန်ခံချက်၊ ဆရာ၊ဆရာမများနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယခြေထိခိုက်မှုမရှိစေရေး ကတိပြုဝန်ခံချက်၊ ပညာရေးဆိုင်ရာဥပဒေများလိုက်နာ ဆောင်ရွက်မည့် ကတိပြုဝန်ခံချက်၊ National Assessment Policyအား လိုက်နာဆောင်ရွက်ရန် သိရှိကြောင်းဝန်ခံချက်၊ အတည်ပြုလုပ်ငန်းကို ပတ်ဝန်းကျင်ရှိအိမ်များမှ ကန့်ကွက်ရန်မရှိကြောင်း သဘောတူညီချက်တို့အား တင်ပြထားပါသည်။<br>- ကိုယ်ပိုင်မြေ(၄)ခု၏ မြေပိုင်ဆိုင်မှုအထောက်အထားများနှင့် မြေပိုင်ရှင် ဦးမောင်အေးနှင့် ကုမ္ပဏီဒါရိုက်တာ ဒေါ်ခိုင်ဇင်သက်တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်(၁)ခု တို့အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အလုပ်သမားများအတွက် လူမှုဖူလုံရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများ၊ ကျောင်းလုံခြုံရေး စီမံချက်၊ ကျောင်းကျန်းမာသန့်ရှင်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/အ-၀၃၅/ ၂၀၁၈(၃၅၀ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာ လ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပုဂ္ဂလိက အထက်တန်းကျောင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd မှ မြေကွက်အမှတ် (၂၉/၈၊၂၉/၅)၊ ၁၆၅၊ ၈၃၊ ၈၄၊ မြေတိုင်းရပ်ကွက်အမှတ်-၅၃၈ (က)၊ ၃၁၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ပုဂ္ဂလိကအထက်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဒါရိုက်တာ ဒေါက်တာလှိုင်ချစ်ဇော် အမည်ဖြင့် နှစ် ၆၀ ဂရန် သက်တမ်းရှိ မြေပိုင်ဆိုင်မှုအထောက်အထား၊ ပညာရေးဝန်ကြီးဌာနမှ ခွင့်ပြုထားသည့် ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ်နှင့် ဆရာ၊ဆရာမများ၏ ကိုယ်ပိုင်ကျောင်းဆရာလက်မှတ်များတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၆,၁၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၂၀၀.၀၀ |
| မြေ | ၂,၀၅၀.၀၀ |
| အဆောက်အအုံ | ၃,၂၅၀.၀၀ |
| လုပ်ငန်းသုံးပစ္စည်း | ၃၅၀.၀၀ |
| သင်ထောက်ကူပစ္စည်း | ၂၅၀.၀၀ |
| **စုစုပေါင်း** | **၆,၁၀၀.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၈၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်း မရှိပါ။ ပြည်တွင်းဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်

၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၂၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။ ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်းသည် ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာသင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များအတိုင်း လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပြီး ဝန်ဆောင်မှုပေးမည့် ခန့်မှန်းကျောင်းသားဦးရေနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|
| (က) | သူငယ်တန်း(KG) | ၂၀၄ | ၄၀,၀၀၀ |
| (ခ) | ပထမတန်း | ၂၄၆ | ၄၀,၀၀၀ |
| (ဂ) | ဒုတိယတန်း | ၂၂၂ | ၄၀,၀၀၀ |
| (ဃ) | တတိယတန်း | ၁၆၃ | ၄၅,၀၀၀ |
| (င) | စတုတ္ထတန်း | ၁၇၆ | ၄၅,၀၀၀ |
| (စ) | ပဥ္စမတန်း | ၁၈၂ | ၅၀,၀၀၀ |
| (ဆ) | ဆဋ္ဌမတန်း | ၁၄၂ | ၅၀,၀၀၀ |
| (ဇ) | သတ္တမတန်း | ၁၄၄ | ၅၀,၀၀၀ |
| (ဈ) | အဋ္ဌမတန်း | ၁၄၇ | ၅၅,၀၀၀ |
| (ည) | နဝမတန်း | ၁၈၀ | ၇၀,၀၀၀ |
| (ဋ) | ဒသမတန်း | ၁၇၄ | ၁၄၀,၀၀၀ |

၆။ အတည်ပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် စက်တင်ဘာ လ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၇/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ်(၄၇)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် ရိုးမဘဏ်တွင် ဒေါ်ကေသီလှိုင်အမည်ဖြင့် ၆-၉-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၇,၂၂၃,၄၃၈.၃၅ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ပညာရေးဝန်ကြီးဌာန၏ ကိုယ်ပိုင်အထက်တန်းကျောင်း မှတ်ပုံတင်လက်မှတ် ရရှိပြီး ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ပညာနန်းတော် ကုမ္ပဏီလီမိတက်အား ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် အတည်ပြုမိန့်အမှတ် ၁၉၃/၂၀၁၈(၂၇-၃-၂၀၁၈)ဖြင့် အတည်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Su San Pyin Nya Yeik Mon Education Service Co., Ltd မှ ပုဂ္ဂလိကအထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄.၉.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / အ - ၀၃၅ / ၂၀၁၈ (၂၉၂)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kaung Su San Pyin Nya Yeik Mon Education Service Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ အမှတ်(၄)လမ်းမကြီး၊ အမှတ်(၂၉/၈)ရှိ မြေ ၀.၂၆၀ ဧကနှင့် (၂)ရပ်ကွက်၊ အမှတ်(၂/၃၁/၈၃၊ ၈၄၊ ၁၆၅)ရှိ မြေ ၀.၃၅၈ ဧက၊ စုစုပေါင်း ၀.၆၁၈ ဧက တို့တွင် ပုဂ္ဂလိက အထက်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၇.၉.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၇)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Kaung Su San Pyin Nya Yeik Mon Education Service Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2018/Cabinet 34(2)